## Myanmar C.P. Livestock Company Limited မှ တင်ပြသည့် အဆိုပြုလွှာနှင့် စပ်လျဉ်း၍ လုပ်ငန်းဆောင်ရွက်မှုမှတ်တမ်း

အသားစားကြက်၊ ဥစားကြက် နှင့် ဝက်မွေးမြူ ရောင်းချခြင်းလုပ်ငန်း

(breeder farm and sales of broiler , layer and pig)

| စဉ် | ဆောင်ရွက်သည့်အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့် ရက်စွဲ/ ကုမ္ပဏီမှ တင်ပြသည့် ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုချက်တင်ပြလာခြင်း | | ၂၁-၅-၂၀၁၉ | |
| ၂ | လုပ်ငန်း လိုအပ်ချက်အရ သက်ဆိုင်ရာ ဝန်ကြီးဌာန များသို့ သဘောထား တောင်းခံခြင်း<br>- ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန (One Stop Service) | ၂၉-၅-၂၀၁၉ | ၃၁-၅-၂၀၁၉ | |
| ၄ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေးသို့ တင်ပြခြင်း | ၁၈/၂၀၁၉<br>(၂၇-၅-၂၀၁၉) | | |
| ၅ | အဆိုပြုချက်အားလက်ခံကြောင်း ပြန်ကြားခြင်း | - | | |
| ၆ | အဆိုပြုချက်အပေါ် ပြင်ဆင်တင်ပြရမည့်အချက်များ အကြောင်းကြားခြင်း | ၃-၆-၂၀၁၉ | | |
| ၇ | အဆိုပြုချက်အား ကော်မရှင် အစည်းအဝေးသို့ တင်ပြခြင်း | ၁၀/၂၀၁၉<br>(၂၈-၆-၂၀၁၉) | | |
| | စုစုပေါင်းကြာမြင့်ရက် | (၃၈) ရက် | | |

## အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်ပြီးစီးမှု

ကုမ္ပဏီအမည် Myanmar C.P. Livestock Company Limited

လုပ်ငန်းအမျိုးအစား အသားစားကြက်၊ ဥစားကြက် နှင့် ဝက်မွေးမြူ ရောင်းချခြင်းလုပ်ငန်း (breeder farm and sales of broiler , layer and pig)

PATအကြိမ်/နေ့စွဲ ၁၈/၂၀၁၉ (၂၇-၅-၂၀၁၉)

| စဉ် | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်အပေါ် ပြင်ဆင်ရန် အချက်များ | ဆောင်ရွက်ပြီးစီးမှု ပြီး(✓) မပြီး(x) | မှတ်ချက် |
|---|---|---|---|
| ၁ | မြေငှားရမ်းခြင်း နှင့် စပ်လျဉ်း၍ နိုင်ငံတော်သမ္မတရုံး၏ ခွင့်ပြုချက်နှင့် ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ သဘောထား မှတ်ချက် တင်ပြပေးရန်။ | | |
| ၂ | မြေငှားစာချုပ် (မူကြမ်း)တွင် တစ်ကေလျှင် တစ်နှစ် ငှားရမ်းခ နှုန်း ဖော်ပြပေးရန် နှင့် ပရီမီယံကြေး ဖော်ပြပေးရန်။ | | |
| ၃ | လုပ်ငန်းအမျိုးအစား ပြင်ဆင် တင်ပြရန်။ | ✓ | |
| ၄ | အဆိုပြုလုပ်ငန်းအတွက် ရင်းနှီးမြှုပ်နှံငွေ ယူဆောင်လာမည့် အစီအစဉ် ဖော်ပြ ပေးရန်။ | ✓ | |
| ၅ | အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ကြက်နှင့် ဝက်များ ရယူမည့် အစီအစဉ် တင်ပြပေးရန်။ | ✓ | |

ကန့်သတ်

အကြောင်းအရာ။ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar C.P. Livestock Company Limited မှ အသားစားကြက်၊ ဥစားကြက် နှင့် ဝက်မွေးမြူ ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်း ကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - Myanmar C.P Livestock Company Limited |
| | ရင်းနှီးမြှုပ်နှံသူ | - Mr. Uthai Tantipimolphan (Thailand) |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန် | - ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>Thana Holding Company Limited (Thailand)၊ ၂၇%<br>Charoen Pokphand Enterprise Company Limited (Thailand) နှင့် ၂၅%<br>CPG Enterprise Company Limited (Birtish Virgin Islands) ၄၈% |
| | လုပ်ငန်းအမျိုးအစား | - အသားစားကြက်၊ ဥစားကြက် နှင့် ဝက်မွေးမြူ ရောင်းချခြင်း လုပ်ငန်း (breeder farm and sales of broiler , layer and pig) |
| ၂။ | တည်နေရာ | - ဦးပိုင်အမှတ်-N-၁၀၂/၁၊ N-၁၀၃/၁၊ N-၁၀၄/၁ နှင့် N-၁၀၂/၂၊ N-၁၀၄/၃၊ ကွင်းအမှတ်-၅၁၁/ခ၊ အောက်ချင်းကန်မြောက် ကွင်း၊ ညောင်နှစ်ပင်ကျေးရွာအုပ်စု၊ မှော်ဘီမြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီး |
| ၃။ | မြေပိုင်ရှင်/မြေအသုံးပြုခွင့်ရရှိသူ | - မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန (မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းမြေ) |
| | မြေအကျယ်အဝန်း | - ဦးပိုင်အမှတ်-N-၁၀၂/၁၊ N-၁၀၃/၁၊ N-၁၀၄/၁ ရှိ မြေ (၁၇၀)ဧက (ကြက်၊ ဝက် မွေးမြူရန်)<br>ဦးပိုင်အမှတ်- N-၁၀၂/၂ ၊ N-၁၀၄/၃ ရှိ မြေ (၃၀)ဧက (မွေးမြူရေးသင်တန်းကျောင်း ဆောင်ရွက်ရန်)<br>စုစုပေါင်း မြေ (၂၀၀)ဧက |
| ၄။ | နှစ်စဉ် မြေငှားရမ်းခ | - မွေးမြူရေးလုပ်ငန်း မြေ ၁၇၀ ဧကအတွက် တစ်နှစ်လျှင် မြေငှားရမ်းခနှုန်း ကျပ် ၆၁၂,၀၀၀,၀၀၀<br>တစ်ဧကလျှင် တစ်နှစ် ငှားရမ်းခနှုန်း ကျပ် ၃,၆၀၀,၀၀၀<br>တစ်နှစ်လျှင် တစ်စတုရန်းမီတာ ငှားရမ်းခနှုန်း ကျပ် ၈၈၉.၅၈<br>- မြေငှားခ ပရီမီယံကြေး US$ ၂၂၀,၀၀၀ (ရင်းနှီးမြှုပ်နှံမှု ပမာဏ ၏ ၁ %) |

ကန့်သတ်

| | | |
|---|---|---|
| | | - မွေးမြူရေးလုပ်ငန်းဖွံ့ဖြိုးမှု လေ့လာရေး စင်တာမြေ ၃၀ဧက အတွက် တစ်နှစ်လျှင် ငှားရမ်းခ ကျပ် ၃၆,၀၀၀,၀၀၀ တစ်ဧကလျှင် တစ်နှစ် ငှားရမ်းခနှုန်း ကျပ် ၁,၂၀၀,၀၀၀ တစ်နှစ်လျှင် တစ်စတုရန်းမီတာ ငှားရမ်းခနှုန်း ကျပ် ၂၉၆.၅၃<br>- မြေငှားခ ပရီမီယံကြေး US$ ၃၀,၀၀၀ (ရင်းနှီးမြှုပ်နှံမှု ပမာဏ ၏ ၁ %) |
| | မြေငှားရမ်းအသုံးပြုခွင့် သက်တမ်း | - ကနဦး (၃၀)နှစ်<br>(အငှားချထားသူ၏ သဘောတူညီချက်နှင့် MIC အတည်ပြုချက် ရယူ၍ နောက်ထပ် (၅)နှစ် (၂)ကြိမ် တိုးမြှင့်ခွင့်) |
| ၅။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်သက်တမ်း | - ကနဦး ၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် (၂) ကြိမ် |
| | တည်ဆောက်မှုကာလ/ ပြင်ဆင်မှုကာလ | - ၂ နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်း ထည့်ဝင်သည့်အမျိုးအစား | **- အမေရိကန်ဒေါ်လာ ၂၅.၀၀၀ သန်း (ချေးငွေ US$ ၁၇.၅၀၀ သန်း အပါအဝင် )** |

| | ထည့်ဝင်ငွေ (US$ သန်း) | ချေးငွေ (US$ သန်း) | စုစုပေါင်း (US$ သန်း) |
|---|---|---|---|
| - ငွေသား | ၀.၂၅၈ | ၂.၄၄၆ | ၂.၇၀၄ |
| - မြေရှင်းလင်းပြင်ဆင်ခြင်းလုပ်ငန်း | ၂.၅၉၂ | - | ၂.၅၉၂ |
| - အဆောက်အဦးနှင့်တပ်ဆင် ပစ္စည်း | - | ၈.၂၃၀ | ၈.၂၃၀ |
| - စက်ပစ္စည်း(ပြည်ပ) | ၂.၃၃၇ | - | ၂.၃၃၇ |
| - စက်ပစ္စည်း(ပြည်တွင်း) | ၂.၃၁၃ | - | ၂.၃၁၃ |
| - လုပ်ငန်းသုံးပစ္စည်းများ | - | ၄.၂၇၅ | ၄.၂၇၅ |
| - ပရိဘောဂနှင့်ရုံးသုံး ပစ္စည်းများ | - | ၀.၆၀၇ | ၀.၆၀၇ |
| - မော်တော်ယာဉ် | - | ၀.၁၈၀ | ၀.၁၈၀ |
| - Utilities system | - | ၁.၇၆၂ | ၁.၇၆၂ |
| စုစုပေါင်း | ၇.၅၀၀ | ၁၇.၅၀၀ | ၂၅.၀၀၀ |

<table>
<tr><td>၇။</td><td>ဝန်ထမ်းအင်အား</td><td>- ၁၈၀ ဦး</td></tr>
<tr><td></td><td>ပြည်တွင်း</td><td>- ၁၈၀ ဦး (ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၁,၈၅၀,၀၀၀ ဖြစ်ပါသည်။)</td></tr>
<tr><td>၈။</td><td>ရောင်းချမည့်စနစ်</td><td>- ပြည်တွင်း ၁၀၀%</td></tr>
<tr><td></td><td>ထုတ်လုပ်မှု (၂ နှစ်မြောက်)</td><td>
<table>
<tr><th>စဉ်</th><th>အမျိုးအစား</th><th>ယူနစ်</th><th>အရေအတွက်</th><th>ရောင်းချမည့် ဈေးနှုန်း (ကျပ်)</th></tr>
<tr><td>(က)</td><td>Broiler</td><td>kg</td><td>၃,၄၆၇,၃၁၈</td><td>၂,၀၀၀</td></tr>
<tr><td>(ခ)</td><td>Layer (egg)</td><td>egg</td><td>၇၃,၀၀၀,၀၀၀</td><td>၁၀၇</td></tr>
<tr><td>(ဂ)</td><td>Layer (birds)</td><td>kg</td><td>၄၃၁,၁၉၀</td><td>၁,၈၀၀</td></tr>
<tr><td>(ဃ)</td><td>Pig</td><td>kg</td><td>၂,၇၆၄,၈၀၀</td><td>၂,၅၀၀</td></tr>
</table>
</td></tr>
<tr><td>၉။</td><td>လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်)</td><td>- ၂,၄၁၅ kWh</td></tr>
<tr><td>၁၀။</td><td>အခြားတင်ပြချက်</td><td>- မြေအထောက်အထားအဖြစ် မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများစီမံခန့်ခွဲရေးဗဟိုကော်မတီမှ မွေးမြူရေးနှင့် ကုသရေးဦးစီးဌာနသို့ မွေးမြူရေးလုပ်ငန်း အတွက် အသုံးပြုခွင့်ပေးထားသော ခွင့်ပြုမိန့် နှင့် မွေးမြူရေး သင်တန်းကျောင်းလုပ်ငန်းအတွက် အစိုးရကခွင့်ပြုသော ဥပဒေနှင့် ညီညွတ်သည့် အခြားလုပ်ငန်းများအတွက် လုပ်ပိုင်ခွင့်၊ အသုံးပြုခွင့်ပြုသော ခွင့်ပြုမိန့်များ တင်ပြထားပါသည်။<br><br>- မွေးမြူရေးနှင့် ကုသရေးဦးစီးဌာနပိုင် ညောင်နှစ်ပင် စိုက်ပျိုးမွေးမြူရေးဇုန် မြေဧရိယာ ၂၀၀ ဧက အနက် မြေ ၃၀ ဧကအား ခေတ်မီဖွံ့ဖြိုးရေးသင်တန်းကျောင်း ဖွင့်လှစ်ရန်နှင့် မြေ ၁၇၀ ဧကအား မွေးမြူရေးခြံလုပ်ငန်း ဆောင်ရွက်ရန်အတွက် နိုင်ငံတော် သမ္မတရုံး၏ သဘောတူ ခွင့်ပြုချက် ရရှိပါက Myanmar C.P Livestock Company Limited သို့ ငှားရမ်းဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်း ဝန်ကြီးဌာနမှ ထောက်ခံချက်အား တင်ပြထားပါသည်။</td></tr>
</table>

| | | |
|---|---|---|
| | | - စိုက်ပျိုးရေးမွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၊ မွေးမြူရေးနှင့် ကုသရေးဦးစီးဌာန နှင့် Myanmar C.P Livestock Company Limited တို့အကြား ချုပ်ဆိုမည့် မြေငှား စာချုပ်(မူကြမ်း)များ အား တင်ပြထားပါသည်။<br>- ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်း US$ ၂,၃၃၆,၉၂၅.၄၄၀ တန်ဖိုးရှိ စာရင်း တင်ပြထားပါသည်။<br>- ငွေရေးကြေးရေး အထောက်အထားအဖြစ် Myanmar C.P Livestock Company Limited အမည်ဖြင့် Bangkok Bank Yangon Branch တွင် ၃၁-၃-၂၀၁၉ ရက်စွဲဖြင့် US$ ၂,၁၄၁,၇၂၃.၆၃ ရှိကြောင်း တင်ပြထားပါသည်။<br>- ကုမ္ပဏီသည် ပြည်ပရှိ နိုင်ငံခြားဘဏ် တစ်ခုခုမှ ချေးငွေ အမေရိကန်ဒေါ်လာ ၁၇.၅၀၀ သန်းအား ချေးယူမည်ဖြစ်ပြီး အတိုးနှုန်းနှင့် ပြန်လည် ပေးဆပ်မည့် အစီအစဉ်အား တင်ပြထားပါသည်။<br>- ကုမ္ပဏီမှ ၂၀၁၇-၂၀၁၈ စည်းကြပ်နှစ်အတွက် ကျသင့်သော အခွန်များ အပြေအကျေ ပေးဆောင်ပြီးကြောင်း တင်ပြထားပါသည်။<br>- အဆိုပြုလုပ်ငန်း၏ အဆောက်အဦပုံများ၊ တည်နေရာပြ မြေပုံ နှင့် Layout Plan တင်ပြထားပါသည်။<br>- လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေး အစီအစဉ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဉ်၊ မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက်တို့ကို တင်ပြထားပါသည်။<br>- CSR Project အနေဖြင့် မြန်မာ မွေးမြူရေးလုပ်ငန်း ဖွံ့ဖြိုးမှု လေ့ကျင့်ရေးစင်တာအား ဆောင်ရွက်ခြင်း ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၁။ | စိစစ်တင်ပြချက် | - အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင် ပါဝင်ပြီး ISIC Code- 0145၊ 0146 တွင် အကျုံးဝင်ပါသည်။ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၂/ခ-၀၄၃/၂၀၁၉( ၁၇၈ )
ရက်စွဲ ၊ ၂၀၁၉ ခုနှစ် ဇွန်လ ၂၄ ရက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့
## တင်ပြသည့် အမှာစာ

အကြောင်းအရာ။ **ရခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar C.P. Livestock Company Limited မှ အသားစားကြက်၊ ဥစားကြက် နှင့် ဝက်မွေးမြူရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ ထိုင်းနိုင်ငံရှိ Thana Holding Company Limited မှ (၂၇%) ထိုင်းနိုင်ငံရှိ Charoen Pokphand Enterprise Company Limited မှ (၂၅%) ၊ Birtish Virgin Islands နိုင်ငံရှိ CPG Enterprise Company Limited မှ (၄၈%) အစုရှယ်ယာများ ထည့်ဝင်ကာ ရခိုင်နှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar C.P Livestock Company Limited မှ ဦးပိုင်အမှတ်-N-၁၀၂/၁၊ N-၁၀၃/၁၊ N-၁၀၄/၁ နှင့် N-၁၀၂/၂ ၊ N-၁၀၄/၃၊ အမှတ်-၅၁၁/ခ၊ အောက်ချင်းကန်မြောက်ကွင်း၊ ညောင်နှစ်ပင်ကျေးရွာအုပ်စု၊ မှော်ဘီမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မွေးမြူရေးနှင့် ကုသရေး ဦးစီးဌာနပိုင် (မြေလွတ်၊ မြေလပ်နှင့် မြေရိုင်း) မြေ (၂၀၀)ကေတွင် **အသားစားကြက်၊ ဥစားကြက် နှင့် ဝက်မွေးမြူရောင်းချခြင်း လုပ်ငန်း**အား ဆောင်ရွက်ခွင့် ပြုပါရန် စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနမှ ထောက်ခံချက်နှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ မြေပိုင်ရှင် စိုက်ပျိုးရေးမွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၊ မွေးမြူရေး နှင့် ကုသရေးဦးစီး ဌာန နှင့် **Myanmar C.P Livestock Company Limited တို့အကြား ချုပ်ဆိုမည့် မြေငှား စာချုပ် (မူကြမ်း)များ** နှင့် မြေပိုင်ရှင် မွေးမြူရေးနှင့် ကုသရေးဦးစီးဌာန အမည်ဖြင့် မြေလွတ်၊ မြေလပ်နှင့် မြေရိုင်း များစီမံခန့်ခွဲရေးဗဟိုကော်မတီမှ မွေးမြူရေးလုပ်ငန်း အတွက် အသုံးပြုခွင့်ပေးထားသော ခွင့်ပြုမိန့် နှင့် မွေးမြူရေး သင်တန်းကျောင်းလုပ်ငန်း အတွက် အစိုးရကခွင့်ပြုသော ဥပဒေနှင့် ညီညွတ်သည့် အခြားလုပ်ငန်းများအတွက် လုပ်ပိုင်ခွင့်၊ အသုံးပြုခွင့်ပြုသော ခွင့်ပြုမိန့် အထောက် အထားများနှင့် Layout Plan တို့ကို တင်ပြထားပါသည်။

၃။ မြေငှားသက်တမ်းမှာ ကနဦး ၃၀ နှစ် နှင့် သက်တမ်းတိုး ၅ နှစ် (၂)ကြိမ် ဖြစ်ပါသည်။ မွေးမြူရေးလုပ်ငန်း မြေ ၁၇၀ ကေအတွက် တစ်နှစ်လျှင် မြေငှားရမ်းခနှုန်း ကျပ် ၆၁၂,၀၀၀,၀၀၀ ဖြစ်ပြီး တစ်ကေလျှင် တစ်နှစ် ငှားရမ်းခနှုန်း ၃,၆၀၀,၀၀၀ ၊ တစ်နှစ်လျှင် တစ်စတုရန်းမီတာ ငှားရမ်းခနှုန်း ကျပ် ၈၈၉.၅၈ နှင့် ပရီမီယံကြေး US$ ၂၂၀,၀၀၀ ဖြစ်ပါသည်။ မွေးမြူရေးလုပ်ငန်းဖွံ့ဖြိုးမှု

လေ့ကျင့်ရေးစင်တာ မြေ ၃၀ ဧက အတွက် တစ်နှစ်လျှင် ငှားရမ်းခ ကျပ် ၃၆,၀၀၀,၀၀၀ ဖြစ်ပြီး တစ်ဧကလျှင် တစ်နှစ် ငှားရမ်းခနှုန်း ကျပ် ၁,၂၀၀,၀၀၀ ၊ တစ်နှစ်လျှင် တစ်စတုရန်းမီတာ ငှားရမ်းခနှုန်း ကျပ် ၂၉၆.၅၃ နှင့် ပရီမီယံကြေး US$ ၃၀,၀၀၀ ဖြစ်ပါသည်။

၄။ လုပ်ငန်း စီမံကိန်းကာလမှာ ၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် (၂)ကြိမ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၂ နှစ် ကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းမှာ အမေရိကန်ဒေါ်လာ ၂၅.၀၀၀ သန်း (ချေးငွေ US$ ၁၇.၅၀၀ သန်း အပါအဝင်) ဖြစ်ပြီး ပြည်ပမှ စက်ပစ္စည်း US$ ၂,၃၃၆,၉၂၅.၄၄၀ ဖိုး တင်သွင်းမည် ဖြစ်ပါသည်။ ရင်းနှီးမြှုပ်နှံမှုအား အောက်ပါအတိုင်း ထည့်ဝင်ထားပါသည်-

| ထည့်ဝင်သည့် အမျိုးအစား | ထည့်ဝင်ငွေ (US$ သန်း) | ချေးငွေ (US$ သန်း) | စုစုပေါင်း (US$ သန်း) |
|---|---|---|---|
| ငွေသား | ၀.၂၅၈ | ၂.၄၄၆ | ၂.၇၀၄ |
| မြေရှင်းလင်းပြင်ဆင်ခြင်း လုပ်ငန်း | ၂.၅၉၂ | - | ၂.၅၉၂ |
| အဆောက်အဦးနှင့် တပ်ဆင် ပစ္စည်း | - | ၈.၂၃၀ | ၈.၂၃၀ |
| စက်ပစ္စည်း(ပြည်ပ) | ၂.၃၃၇ | - | ၂.၃၃၇ |
| စက်ပစ္စည်း(ပြည်တွင်း) | ၂.၃၁၃ | - | ၂.၃၁၃ |
| လုပ်ငန်းသုံးပစ္စည်းများ | - | ၄.၂၇၅ | ၄.၂၇၅ |
| ပရိဘောဂနှင့်ရုံးသုံး ပစ္စည်းများ | - | ၀.၆၀၇ | ၀.၆၀၇ |
| မော်တော်ယာဉ် | - | ၀.၁၈၀ | ၀.၁၈၀ |
| Utilities system | - | ၁.၇၆၂ | ၁.၇၆၂ |
| **စုစုပေါင်း** | ၇.၅၀၀ | ၁၇.၅၀၀ | ၂၅.၀၀၀ |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်း ဝန်ထမ်း (၁၈၀)ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၁,၈၅၀,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ အသားစားကြက်၊ ဥစားကြက်နှင့် ဝက်များကို ပြည်တွင်းသို့ ၁၀၀% ရောင်းချမည် ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ ထုတ်လုပ်မှု နှင့် ရောင်းဈေးနှုန်းမှာ အောက်ပါ အတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအစား | ယူနစ် | အရေအတွက် | ရောင်းချမည့် ဈေးနှုန်း (ကျပ်) |
|---|---|---|---|---|
| (က) | Broiler | kg | ၃,၄၆၇,၃၁၈ | ၂,၀၀၀ |

| စဉ် | အမျိုးအစား | ယူနစ် | အရေအတွက် | ရောင်းချမည့် ဈေးနှုန်း (ကျပ်) |
|---|---|---|---|---|
| (ခ) | Layer | egg | ၇၃,၀၀၀,၀၀၀ | ၁၀၇ |
| (ဂ) | Layer (birds) | kg | ၄၁၁,၁၉၀ | ၁,၈၀၀ |
| (ဃ) | Pig | kg | ၂,၇၆၄,၈၀၀ | ၂,၅၀၀ |

၈။ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာနမှ ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာနမှ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း(Environmental Impact Assessment -EIA)ကို ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ်(၄၉)၊ (၆၃)နှင့်အညီ ပြုစုဆောင်ရွက်ရန်နှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) ကို ရေးဆွဲ တင်ပြရမည်ဖြစ်ကြောင်း ပြန်ကြားလာပါသည်။

နောက်ဆက်တွဲ(က)

၉။ ငွေရေးကြေးရေးအထောက်အထားအဖြစ် **Myanmar C.P Livestock Company Limited** အမည်ဖြင့် Bangkok Bank Yangon Branch တွင် ၁၁-၁-၂၀၁၉ ရက်စွဲဖြင့် US$ ၂,၁၄၁,၇၂၃.၆၃ ရှိကြောင်း တင်ပြထားပါသည်။

၁၀။ ကုမ္ပဏီသည် ပြည်ပရှိ နိုင်ငံခြားဘဏ် တစ်ခုခုမှ ချေးငွေ အမေရိကန်ဒေါ်လာ ၁၇.၅၀၀ သန်းအား ချေးယူမည်ဖြစ်ပြီး အတိုးနှုန်းနှင့် ပြန်လည် ပေးဆပ်မည့် အစီအစဉ်အား တင်ပြထားပါသည်။

၁၁။ အဆိုပြုလုပ်ငန်း၏ အဆောက်အဦပုံများ၊ တည်နေရာပြ မြေပုံ နှင့် Layout Plan ၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေး အစီအစဉ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဉ်၊ မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက်များနှင့် CSR Project အနေဖြင့် မြန်မာ မွေးမြူရေး လုပ်ငန်း ဖွံ့ဖြိုးမှု လေ့ကျင့်ရေးစင်တာအား ဆောင်ရွက်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၂။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၉ ခုနှစ် မေလ ၂၇ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ၁၈/၂၀၁၉ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

၁၃။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ စိုက်ပျိုးရေးမွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာနမှ ထောက်ခံချက်တင်ပြထားပါသည်။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၁၈/၂၀၁၉) (၂၇-၅-၂၀၁၉) အစည်းအဝေးမှ နိုင်ငံတော်သမ္မတရုံး၏ ခွင့်ပြုချက်၊ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထား၊ မြေအသုံးချမှု ပရိမီယံကြေးတို့အား ပြန်လည် တင်ပြပေးရန် စိုက်ပျိုးရေး မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာနသို့ အကြောင်းကြားထားသော်လည်း ပြန်လည်

တင်ပြလာခြင်း မရှိသေးပါ။ မြေအသုံးချမှု ပရိမိယံကြေးအား ညှိနှိုင်းထားသည့် အခြေအနေကို ကုမ္ပဏီမှ တင်ပြထားခြင်း ဖြစ်ပါသည်။

(ခ) အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှု ကဏ္ဍတွင် ပါဝင်ပြီး ISIC Code- 0145၊ 0146 တွင် အကျုံးဝင်ပါသည်။

(ဂ) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့် နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီး ဖြစ်ပါသည်။

ဆုံးဖြတ်ရန်အချက်

၁၄။ ရခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် **Myanmar C.P. Livestock Company Limited မှ အသားစားကြက်၊ ဥစားကြက် နှင့် ဝက်မွေးမြူ ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်** စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းအပေါ် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(သန့်စင်လွင်၊ ခေတ္တအတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

နောက်ဆက်တွဲ (က)

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC (OSS)/ ၀၁(၃၀/၁၉)
ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ မေလ ၃၁ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

165/ MIC, 3/6

အကြောင်းအရာ။ **Myanmar C.P Livestock Company Limited မှ အသားစားကြက်၊ ဥစားကြက်၊ ဝက်မွေးမြူခြင်းလုပ်ငန်းနှင့် မြန်မာမွေးမြူရေးလုပ်ငန်း ဖွံ့ဖြိုးမှုလေ့လာရေးစင်တာဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၉-၅-၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက-၂/ ခ-၀၄၃/ ၂၀၁၉ (၁၃၆)

၁။ ထိုင်းနိုင်ငံ Thana Holding Company Limited မှ ၂၇%၊ ထိုင်းနိုင်ငံရှိ Charoen Pokphand Enterprise Company Limited မှ ၂၅%၊ Birtish Virgin Islands နိုင်ငံရှိ CPG Enterprise Co- mpany Limited မှ ၄၈% အစုရှယ်ယာများ အသီးသီးထည့်ဝင်ကာ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar C.P Livestock Company Limited မှ ဦးပိုင်အမှတ် N(၁၀၂/၁)၊ N(၁၀၃/၁)၊ N(၁၀၄/၁)၊ N(၁၀၂/၂)၊ N(၁၀၄/၃)၊ အမှတ် ၅၁၁/ခ၊ အောက်ချင်းကန်မြောက်ကွင်း၊ ညောင်နှစ်ပင်ကျေးရွာအုပ်စု၊ မှော်ဘီမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မွေးမြူရေးနှင့် ကုသရေးဦးစီးဌာနပိုင် (မြေလွတ်၊ မြေလပ်နှင့်မြေရိုင်း) မြေ ၂၀၀ ဧက (၈,၀၉,၃၇၁.၂ စတုရန်းမီတာ) တွင် အသားစားကြက်၊ ဥစားကြက်၊ ဝက်မွေးမြူခြင်းနှင့် မြန်မာမွေးမြူရေးလုပ်ငန်း ဖွံ့ဖြိုးမှုလေ့လာရေးစင်တာအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာအဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသော အဆိုပြုလွှာတွင် ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ (၅၀) နှစ်ဖြစ်ပြီး၊ သက်တမ်းတိုး (၁၀) နှစ် (၂) ကြိမ်ဆောင်ရွက်မည်ဖြစ်ကာ၊ တည်ဆောက်ရေးကာလမှာ (၂) နှစ်ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအား မြေ (၈,၀၉,၃၇၁.၂ စတုရန်းမီတာ) အနက်မှ (၆,၈၇,၉၆၅ စတုရန်းမီတာ) တွင် အသားစားကြက်၊ ဥစားကြက်၊ ဝက်မွေးမြူခြင်းလုပ်ငန်း၊ မြေ (၁,၂၁,၄၀၅ စတုရန်းမီတာ) တွင် မွေးမြူရေးလုပ်ငန်း လုပ်ကိုင်သူများကို နည်းပညာများ ဖြန့်ဖြူးနိုင်ရန်အတွက် မြန်မာမွေးမြူရေးလုပ်ငန်း ဖွံ့ဖြိုးရေးစင်တာနှင့် မွေးမြူရေးလုပ်ငန်းအတွက် လိုအပ်သောအဆောက်အဦများ၊ ဝန်ထမ်းအိမ်ယာနှင့် အားကစားကွင်းစသည့် အဆောက်အဦများ တည်ဆောက်ကာ လုပ်ငန်းများ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) အဆိုပြုလုပ်ငန်းမှ ထုတ်လုပ်မှုအနေဖြင့် ပထမနှစ်တွင် ကြက်ကောင်ရေ (၂) သိန်းကျော်မှ (၁၀) နှစ်အတွင်း (၁၄) သိန်းကျော် အထိလည်းကောင်း၊ ပထမနှစ်တွင် ကြက်ဥအလုံးရေ

(၁၆) သန်းကျော်မှ (၁၀) နှစ်အတွင်း (၇၃) သန်းကျော်အထိလည်းကောင်း တိုးမြှင့်ထုတ်လုပ်မည် ရောင်းချမည်ဖြစ်ကာ၊ နှစ်စဉ် ဝက်ကောင်ရေ (၂) သောင်းကျော်ကိုလည်းမွေးမြူရောင်းချကာ လုပ်ငန်းများ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဃ) ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေး ကြိုတင်ကာကွယ်ရေး အစီအမံများကိုလည်းထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(င) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၂%) ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(စ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး/လုပ်နည်း၊ အမိန့်နှင့် ညွှန်ကြားချက်များကိုလိုက်နာဆောင်ရွက်သွားမည် ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) Myanmar C.P Livestock Company Limited မှ အသားစားကြက်၊ ဥစားကြက်၊ ဝက်မွေးမြူခြင်းလုပ်ငန်းနှင့် မြန်မာမွေးမြူရေးလုပ်ငန်း ဖွံ့ဖြိုးမှုလေ့လာရေး စင်တာအတွက်အဆောက်အဦများ တည်ဆောက်ရာ၌ မြေပြုပြင်ခြင်းနှင့် ဆောက်လုပ်ရေးလုပ်ငန်းခွင်မှထွက်ရှိလာမည့် ဖုန်မှုန့်များ၊ တုန်ခါ မှုများ၊ လုပ်ငန်းသုံး ယာဉ်/ ယန္တရားများမှ ထွက်ရှိလာမည့် စက်ဆီ၊ ချောဆီ၊ အခိုးအငွေ့များကြောင့် အနီးပတ်ဝန်းကျင်ရှိ လေထု၊ မြေထုနှင့် ရေထု ညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်ခြင်း၊

(ခ) တည်ဆောက်လုပ်ငန်းသုံး ယာဉ်/ယန္တယားများနှင့် စက်ပစ္စည်းများမှ ထွက်ရှိလာမည့်စက်ဆီ၊ ချောဆီနှင့် စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ရှိ မြေထု၊ ရေထုနှင့် လေထုညစ်ညမ်းခြင်း၊

(ဂ) အလုပ်သမားများ၏ စွန့်ပစ်ပစ္စည်းများနှင့် မိလ္လာအညစ်အကြေးများကြောင့် ပတ်ဝန်းကျင် ညစ်ညမ်းခြင်း၊

(ဃ) လုပ်ငန်းလည်ပတ်ရာတွင် လိုအပ်သည့်ရေအား စနစ်တကျ ထုတ်ယူသုံးစွဲမှုမရှိခြင်းကြောင့် မြေအောက်ရေ အရည်အသွေးနှင့် မျက်နှာပြင် နိမ့်ကျခြင်း၊

(င) လုပ်ငန်းများဆောင်ရွက်ရာတွင် ထွက်ရှိလာမည့် ကြက်ဥကွဲများ၊ ကြက်ဥပုပ်များအားစနစ်တကျမစွန့်ပစ်ပါက ပတ်ဝန်းကျင်မြေထုနှင့် လေထုညစ်ညမ်းခြင်း၊ ကြက်ခြံ/ဝက်မွေးမြူရေးခြံအတွင်းနှင့် ခြံပတ်ဝန်းကျင်များကို ပိုးသတ်ဆေးဖြန်းခြင်းလုပ်ငန်းများမှ ထွက်ရှိလာမည့် စွန့်ပစ်ရေဆိုးများနှင့် toxic compound များကြောင့် ပတ်ဝန်းကျင်မြေထုနှင့် ရေထုညစ်ညမ်းခြင်း၊ လုပ်သားများ၏ ကျန်းမာရေးကို ထိခိုက်စေနိုင်ခြင်း၊

(စ) မွေးမြူရေးနှင့် ကုသရေးဦးစီးဌာနမှ ညွှန်ကြားချက်နှင့်အညီ စနစ်တကျ ဆေးဖြန်းခြင်း၊ လိုအပ်သည့် အစီအမံများ စီစဉ်ဆောင်ရွက်ထားခြင်းမရှိပါက မွေးမြူရေးကြက်နှင့် ဝက်များတွင် ဖြစ်ပွားတတ်သည့် တုတ်ကွေးရောဂါကြောင့် ကပ်ရောအသွင် ကူးစက်ရောဂါများ ဖြစ်ပွားစေနိုင်ခြင်း၊ အနံ့အသက်ဆိုးများကြောင့် အလုပ်သမားများနှင့်ပတ်ဝန်းကျင်ရှိ ပြည်သူများ၏ ကျန်းမာရေးကို ထိခိုက်စေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်စေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Myanmar C.P Livestock Company Limited မှ အသားစားကြက်၊ ဥစားကြက်၊ ဝက်မွေးမြူခြင်းလုပ်ငန်းနှင့် မြန်မာမွေးမြူရေးလုပ်ငန်း ဖွံ့ဖြိုးမှုလေ့လာရေးစင်တာ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့် လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည် -

(က) အဆိုပြုလုပ်ငန်းများ ကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ ကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့်နည်းစနစ်များ အားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင် ရွက်မှု (Corporate Social Responsibility-CSR) အတွက်အသားတင်အမြတ်ငွေ၏ (၂%) ကို အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျ လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၉)၊ (၆၃) နှင့်အညီ ပြုစု ဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၅၊ ၄၆ တို့အရစီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း **(Environmental Impact Assessment-EIA)** မစတင်မီ အဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့် တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့် စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၇ မှ အပိုဒ် ၅၄ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်းအစီရင်ခံစာနှင့်ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ ဆောင်ရွက်သွားမည့် လုပ်ငန်းတစ်ခုချင်းအလိုက် လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်း သိမ်းရေးဝန်ကြီးဌာနသို့တင်ပြ အတည်ပြုချက်ရယူရန်၊

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာပါအချက်များအပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၆၃) ပါအချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းအစီရင်ခံစာ (EIA)** ကိုဆောင်ရွက်ပြီးသယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြရန်၊

(စ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သောပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာအရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများဖြည့်စွက်၍တစ်ပါတည်းတင်ပြရန်၊

(ဇ) သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့်နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ဆန္ဒနှင့် သဘောထားများကိုလည်းရယူ ဆောင်ရွက်ရန်၊

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်(ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ